بسم الله الرحمن الرحيم

# عقائد الاسلام

## ( အစ္စလာမ့်ယုံကြည်ချက်များ )

ရှာဖွေရေးသားတင်ပြသူ

မုဖ်သီ မုတမ္မဒ် အိဒ်ရီးစ် (မင္ဂလတောရီ)

ကျောင်းအုပ်ဆရာ-မဒ်ရစဟ် အစ္စလာမီယဟ် ဇွီယာအုလ်ကုရ်အာန်

အမှတ် (၂၅/၂၉)၊ ၁၃၇-လမ်း၊ ရန်ကုန်မြို့။

# မာတိကာ

باسمه تعالی

حَامِدًا وَّمُصَلِّيًا وَّمُسَلِّمًا

# အမှာစာ

အစ္စလာမ်သာသနာတော်တွင် عقائد ဟုခေါ်သော ယုံကြည်ချက်များ၊ ခံယူချက်များသည် အလွန်အရေးပါပြီး အဓိကကျသောအချက်များပင်ဖြစ်သည်။ မုစ်လင်မ်မိဘနှစ်ပါးက မွေးဖွားလိုက်၍ အလိုအလျောက် မုစ်လင်မ်မဖြစ်သွားပါ။ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးဆ်တော်မှ ပြဌာန်းထားသော ခံယူချက်များသည် အရွယ်ရောက်သည့်အချိန်မှစ၍ ပြည့်ပြည့်ဝဝယုံကြည်ကြမှသာလျှင် မုစ်လင်မ်အဖြစ်သို့ ရောက်ရှိကြပေမည် ဖြစ်သည်။

သို့ပါ၍ မပ်က်သဗ်ကျောင်းများတွင် သာသနာ့ပညာဆည်းပူးနေကြသော ကျောင်းသား/သူများအဖို့ အစ္စလာမ်သာသနာတွင် ထားရှိရသည့် ခံယူချက်များကို သိရှိနားလည်ကြရန် အလွန်ပဲအရေးကြီးလှပါသည်။ သို့ပါ၍ ကျွန်ုပ်သည် အစ္စလာမ့်ယုံကြည်ချက်များ၊ ခံယူချက်များကို ကျမ်းအချို့တို့မှ ထုတ်နှုတ်၍ ကျောင်းသား/သူများ လွယ်ကူမှုရှိကြစေရန် အစဉ်လိုက်ခေါင်းစီးများတပ်၍ ရေးသားတင်ပြလိုက်ပါသည်။ အလ္လာဟ်အရှင်

မြတ်သည် ဤစာအုပ်ကိုအကြောင်းပြု၍ မုစ်လင်မ့်ရင်သွေးများကို စစ်မှန်သည့်ခံယူချက်များထားရှိရန် သက်တမ်းတစ်လျှောက်လုံး အစ္စလာမ့်ပုံစံဖြင့် လျှောက်လှမ်းနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။

(အာမီးန်)

မုဟာမ္မဒ်အိဒ်ရိုးစ်

မဒ်ရစဟ် အာစ္စလာမီယဟ် ဇွိယာအုလ်ကုရ်အာန်
မအူကုန်း၊ ရန်ကုန်မြို့။

---


မဂ်လာဖိတ်စာအမျိုးမျိုး၊လက်ကမ်းစာစောင်၊
အင်္ဂလိပ်-မြန်မာ-အရဗီကွန်ပျူတာဖြင့်စာစီစာရိုက်၊
ရုံးသုံးလက်တာဟတ်၊လိပ်စာကဒ်များနှင့် ဘာသာရေးစာအုပ်များ၊
ဖြတ်ပိုင်းဘောက်ချာစာအုပ်များကို သင့်စိတ်တိုင်းကျ
ဈေးနှုန်းချိုသာစွာဖြင့် ရက်ချိန်းမှန်စေဆောင်ရွက်ပေးပါသည်။

M A & MYAYADANAR
Graphic Design Kung Kyo

No. (115),38th Street,Hp : 095164475
Ph : 387345 , Home Ph : 545626

## အစ္စလာမ့်ယုံကြည်ချက်များ

## အလ္လာဟ်အရှင်မြတ်နှင့်စပ်လျဉ်းသည့် ယုံကြည်ချက်များ

အလ္လာဟ်အရှင်မြတ်သည် မူလကနဦးထဲ က တည်ရှိနေသော အရှင်ဖြစ်သည်။ ထာဝစဉ်အမြဲ တည်ရှိနေတော်မူမည်။

၁။ ရှိရှိသမျှသော ကမ္ဘာလောကအပေါင်းနှင့် ၎င်းတို့အတွင်း၌ရှိနေသော သက်ရှိသက်မဲ့အရာအားလုံးသည် မူလက လုံးဝမရှိခဲ့ပါ။ အလ္လာဟ်အရှင်မြတ်က ဖန်ဆင်းခဲ့တော်မူလိုက်သောကြောင့် တည်ရှိလာခဲ့ခြင်းဖြစ်ပါသည်။

၂။ အလ္လာဟ်အရှင်တစ်ပါးတည်း တည်ရှိတော်မူ၏ ။ မည်သူ့ကိုမျှ မှီခိုအားထားရန် မလိုအပ်ပေ။ မည်သူ့ကိုမျှ မွေးဖွားခဲ့ခြင်းမရှိ။ မည်သူကမျှလည်း မွေးဖွားထားသည်မဟုတ်။ အိမ်ထောင်ဖက်လည်းမရှိ။

၃။ အမြဲထာဝရ ရှိတော်မူခဲ့၏ ။ နောင်ကိုလည်း အမြဲထာဝရ တည်ရှိနေတော်မူမည်။

၄။ ထိုအရှင်မြတ်နှင့်ဂုဏ်ရည်တူသူဟူ၍ ပမာတူသည့်အရာများလည်းမရှိ။ ထိုအရှင်သည် အရာခပ်သိမ်းတို့နှင့် ခြားနားသည်၊ အရာခပ်သိမ်းအပေါ် စွမ်းဆောင်နိုင်တော်မူ၏ ။

၅။ အလ္လာဟ်အရှင်မြတ်မသိသောအရာ၊ မမြင်သောအရာဟူ၍ မရှိပါ။ အရာအားလုံးကို အကြွင်းမဲ့မြင်နေတော်မူပြီး၊ အကြွင်းမဲ့ကြားတော်မူ၍ အကြွင်းမဲ့သိနေတော်မူ၏ ။

၆။ အလ္လာဟ်အရှင်မြတ်သည် မိမိမိန့်ကြားလိုသည့်အချက်များကို မိန့်ကြားတော်မူ၏ ။ သို့သော် ထိုအရှင်၏မိန့်ကြားချက်သည် ကျွန်ုပ်တို့ပြောဆိုကြသည့် စကားများကဲ့သို့မဟုတ်ပေ။

၇။ အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိသည့်အရာများကို ပြုလုပ်တော်မူပြီး မည်သူတစ်ဦးတစ်ယောက်ကမျှ ထိုအရှင်၏ လုပ်ဆောင်မှုကို တားမြစ်နိုင်စွမ်းမရှိ။ ခဝပ်ကိုးကွယ်ခြင်းကို ခံထိုက်တော်မူသောအရှင်ဖြစ်၏။ ထိုအရှင်အား မည်သူမျှ တုပနိုင်သူမရှိ။

၈။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ အဖန်ဆင်းခံများအပေါ် ဂရုဏာထားတော်မူပြီး ဘေးအန္တရာယ်အပေါင်းမှ ကာကွယ်ပေးတော်မူသောအရှင်ဖြစ်တော်မူ၏။ စိုးမိုးအုပ်ချုပ်တော်မူပြီး ချွတ်ယွင်းချက်အပေါင်းမှ ကင်းစင်သန့်ရှင်းတော်မူသောအရှင်ဖြစ်တော်မူ၏ ။

၉။ အလ္လာဟ်အရှင်မြတ်သည် ဂုဏ်တော်အပေါင်းနှင့် ပြည့်စုံတော်မူပြီး အရာအားလုံးထက် ထွတ်မြတ်တော်မူသော အရှင်ဖြစ်တော်မူ၏။ သက်ရှိသက်မဲ့အရာအားလုံးကို ဖန်ဆင်း

တော်မူ၏။ အလ္လာဟ်အရှင်မြတ်အား မည်သူကမျှ ဖန်ဆင်းသည်မဟုတ်ပေ။

၁၀။ အလ္လာဟ်အရှင်မြတ်သည် အကုသိုလ်အပြစ်များကို လွှတ်ငြိမ်းချမ်းသာခွင့်ပေးပြီး မြောက်မြားစွာသောရိဇ္ဇိရိက္ခာများကို ချီးမြှင့်ပေးသနားတော်မူသောအရှင်၊ အရာရာကို စွမ်းဆောင်နိုင်သောအရှင်ဖြစ်တော်မူသည်။

၁၁။ အလ္လာဟ်အရှင်မြတ်သည် မိမိရိဇ္ဇိရိက္ခာကျယ်ဝန်းလိုသူကို ကျယ်ဝန်းစေ၍ ကျပ်တည်းစေလိုသူ ကျပ်တည်းစေတော်မူ၏။ မိမိသိက္ခာမဲ့လိုသောသူအား သိက္ခာမဲ့စေ၍ သိက္ခာပေးလိုတော်မူသောသူအား ဂုဏ်သိက္ခာပေးသနားတော်မူသောအရှင်ဖြစ်တော်မူသည်။

၁၂။ အလ္လာဟ်အရှင်မြတ်သည် တရားမျှတတော်မူသည့်အရှင်၊ သိမ်မွေ့တော်မူသည့်အရှင်၊ ခဝပ်ကိုးကွယ်သူတို့၏ ခဝပ်ကိုးကွယ်မှုကို ခံထိုက်တော်မူသောအရှင်၊ တောင်းဆုဒုအာများကို လက်ခံတော်မူသောအရှင်ဖြစ်တော်မူ၏။

၁၃။ အလ္လာဟ်အရှင်မြတ်သည် စွမ်းအားကြီးမားတော်မူပြီး အရာခပ်သိမ်းကို စိုးမိုးအုပ်ချုပ်တော်မူသောအရှင်ဖြစ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ပြုမူဆောင်ရွက်ချက် ကိစ္စရပ်တိုင်းသည် ဉာဏ်အမြော်အမြင်နှင့် ကင်းလွတ်သည်ဟူ၍မရှိ၊ ကိစ္စ

တော်မူ၏။ အလ္လာဟ်အရှင်မြတ်အား မည်သူကမျှ ဖန်ဆင်းသည်မဟုတ်ပေ။

၁၀။ အလ္လာဟ်အရှင်မြတ်သည် အကုသိုလ်အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးပြီး မြောက်မြားစွာသောရိဇ်ဇ်ရိက္ခာများကို ချီးမြှင့်ပေးသနားတော်မူသောအရှင်၊ အရာရာကို စွမ်းဆောင်နိုင်သောအရှင်ဖြစ်တော်မူသည်။

၁၁။ အလ္လာဟ်အရှင်မြတ်သည် မိမိရိဇ်ဇ်ရိက္ခာကျယ်ဝန်းလိုသူကို ကျယ်ဝန်းစေ၍ ကျပ်တည်းစေလိုသူ ကျပ်တည်းစေတော်မူ၏။ မိမိသိက္ခာမဲ့လိုသောသူအား သိက္ခာမဲ့စေ၍ သိက္ခာပေးလိုတော်မူသောသူအား ဂုဏ်သိက္ခာပေးသနားတော်မူသောအရှင်ဖြစ်တော်မူသည်။

၁၂။ အလ္လာဟ်အရှင်မြတ်သည် တရားမျှတတော်မူသည့်အရှင်၊ သိမ်မွေ့တော်မူသည့်အရှင်၊ ခဝပ်ကိုးကွယ်သူတို့၏ ခဝပ်ကိုးကွယ်မှုကို ခံထိုက်တော်မူသောအရှင်၊ တောင်းဆုဒုအာများကို လက်ခံတော်မူသောအရှင်ဖြစ်တော်မူ၏။

၁၃။ အလ္လာဟ်အရှင်မြတ်သည် စွမ်းအားကြီးမားတော်မူပြီး အရာခပ်သိမ်းကို စိုးမိုးအုပ်ချုပ်တော်မူသောအရှင်ဖြစ်တော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ ပြုမူဆောင်ရွက်ချက် ကိစ္စရပ်တိုင်းသည် ဉာဏ်အမြော်အမြင်နှင့် ကင်းလွတ်သည်ဟူ၍မရှိ၊ ကိစ္စ

ရပ်အပေါင်းတို့ကို ပြုပြင်ဖန်တီးတော်မူသော အရှင်ဖြစ်တော်မူ၏။

၁၄။ အလ္လာဟ်အရှင်မြတ်သည် လမ်းမှန်ကို ညွှန်ကြားပြသပေးတော်မူသောအရှင်ဖြစ်ပြီး ထိုအရှင်သည်သာ သက်ရှိအားလုံးတို့အား သေစေနိုင်သောအရှင်ဖြစ်တော်မူ၏။ ကိယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့်သာ သေသူအားလုံး ပြန်လည်ရှင်ထကြရမည်ဖြစ်သည်။

၁၅။ အလ္လာဟ်အရှင်မြတ်အား နိမိတ်လက္ခဏာ ဂုဏ်တော်များဖြင့်အားလုံးသိရှိကြ၏။ အလ္လာဟ်အရှင်မြတ်၏ ပင်ကိုယ်ဇာတိတော်နက်နဲမှုကို မည်သူမျှ မသိရှိနိုင်ပေ။ ပြစ်မှုဂုနဟ်ကျူးလွန်မိသူတို့၏ ဝန်ချတောင်းပန်မှုကို လက်ခံတော်မူသောအရှင်ဖြစ်တော်မူပြီး ပြစ်ဒဏ်စီရင်ထိုက်သူတို့အားပြစ်ဒဏ်ခတ်တော်မူသောအရှင်ဖြစ်တော်မူ၏။

၁၆။ အလ္လာဟ်အရှင်မြတ်သည် လမ်းမှန်ကို ညွှန်ကြားပြသပေးတော်မူသောအရှင် ဖြစ်တော်မူသည်။ ဖြစ်ပျက်သမျှသောကိစ္စရပ်တို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်အာဏာဖြင့်သာဖြစ်ပျက်ကြကုန်၏။ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်မပါဘဲ မြူမှုန်မျှပင် ရွေ့လျားနိုင်စွမ်းမရှိပေ။

၁၇။ အလ္လာဟ်အရှင်မြတ်သည် အိပ်စက်ခြင်း၊ ငိုက်မြည်းခြင်းမရှိ။

ကမ္ဘာနှင့် စကြဝဠာအပေါင်းတို့အား ထိန်းသိမ်းထားရခြင်း ကြောင့် မောပန်းနွမ်းနယ်ခြင်းမရှိ။ အရာအားလုံးကို ထိန်း သိမ်းထားတော်မူသောအရှင်ဖြစ်တော်မူ၏။

၁၈။ အလ္လာဟ်အရှင်မြတ်သည် မြင့်မြတ်မှုအပေါင်းနှင့် ပြည့်စုံ တော်မူပြီး ချွတ်ယွင်းချက်အပေါင်းမှ ကင်းစင်တော်မူ၏။ အလ္လာဟ်အရှင်မြတ်၏ မှန်မြတ်သည့်ဂုဏ်တော်အပေါင်း သည် ထာဝရတည်ရှိခဲ့ပြီး အမြဲထာဝစဉ်တည်ရှိနေတော် မူမည်။

၁၉။ အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံတို့၏ဂုဏ်ပုဒ်များနှင့် ကင်းစင် သန့်ရှင်းတော်မူ၏။ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးဆ်တော်မြတ်များ၌ပါရှိသော အဖန်ဆင်းခံတို့၏ဂုဏ်ပုဒ် များနှင့် အလ္လာဟ်အရှင်မြတ်၏ဂုဏ်တော်များ၊ တူညီချက် များကို အလ္လာဟ်အရှင်မြတ်သည်သာ ၎င်း၏ အဓိပ္ပာယ်အလို သဘောကိုသိရှိတော်မူပါသည်ဟု အီမာန်သက်ဝင်ယုံကြည်ကြ ရပေမည်။

၂၀။ အလ္လာဟ်အရှင်မြတ်သည် လောက၌ ဖြစ်ပျက်သမျှသော အကောင်းနှင့်အဆိုးကို မဖြစ်ပျက်မီအလျင် သိရှိတော်မူ သောအရှင်ဖြစ်တော်မူသည်။ မိမိသိရှိတော်မူသည့်အတိုင်း အကောင်းအဆိုးကို ဖန်ဆင်းပေးတော်မူ၏။ ၎င်းအချက်ကို ပင် "သပ်က်ဒီးရ်" ဟုခေါ် ဆိုပါသည်။ မကောင်းသောအရာ

များကို ဖန်ဆင်းတော်မူခြင်း၏ များစွာသောလျှို့ဝှက်ချက် များရှိပါသည်။ ၄င်းအချက်များကို လူတိုင်း နားလည်နိုင်စွမ်း မရှိပေ။

၂၁။ အလ္လာဟ်အရှင်မြတ်သည် လူသားတိုင်းအား အသိတရား ပေးအပ်ထားတော်မူပေရာ လူသားတိုင်းသည် မိမိတို့၏ အသိ တရားနှင့် အလိုဆန္ဒတို့ဖြင့်သာ ကုသိုလ်၊ အကုသိုလ်တို့ပြုလုပ် ကြ၏။ သို့သော် လူသားများ၌ မည်သို့သောအရာကိုမျှ ဖန် ဆင်းနိုင်စွမ်းမရှိပေ။ အလ္လာဟ်အရှင်မြတ်သည်လည်း လူ သားများမစွမ်းနိုင်သည့်ကိစ္စရပ်များကို ပြုကျင့်ဆောက်တည် ရန်မိန့်ချေတော်မူခြင်းမရှိပေ။ မည်သည့်အရာမျှ အလ္လာဟ် အရှင်မြတ်၏ တာဝန်ဝတ္တရားဟူ၍မရှိ၊ တစ်စုံတစ်ရာကို အလ္လာဟ်အရှင်မြတ် ချီးမြှင့်တော်မူပါက အရှင်မြတ်၏ ကျေး ဇူးတော်သာဖြစ်ပေ၏။

၂၂။ အလ္လာဟ်အရှင်မြတ်မိန့်တော်မူထားသောအမိန့်တော်များ၊ နောင်မိန့်ဆိုမည့်အမိန့်တော်များသည် လုံးဝမှန်ကန်သည်။ ၄င်းအချက်များနှင့် ဆန့်ကျင်ဘက်ခံယူချက်ထားရှိခြင်း၊ အလ္လာဟ်အရှင်မြတ်၏ မိန့်ခွန်းတော်များတွင် လိမ်လည်မှုရှိ သည်ဟု ခံယူချက်ထားခြင်း ကုဖ်ရ်ထိုက်သည်။ ယင်းခံယူချက် များထားရှိသူတွင် စိုးစဉ်းမျှအီမာန်မရှိ။

၂၃။ တစ်ဦးတစ်ယောက်အား အရိုအသေပေးသောအားဖြင့် ရုကူအ်ကဲ့သို့ ဦးညွတ်ခြင်းသည် (အလ္လာဟ်အရှင်မြတ်မှအပ အခြားသူများရှေ့၌ စဂ်ျဒဟ်ပြုခြင်း မပိုင်သကဲ့သို့) မပြု ပိုင်ပေ။

၂၄။ အရိုအသေပေးသောအားဖြင့် မိခင်၊ ဖခင်တို့၏ ခြေထောက် အား ဦးညွတ်၍ လက်ဖြင့်ထိကိုင်ခြင်းမပြုပိုင်။



## ရစူလ်တမန်တော်များနှင့်စပ်လျဉ်းသည့် ယုံကြည်ချက်များ

၁။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ဗန္ဒဟ်ကျေးကျွန်များအား ဖြောင့်မတ်မှန်ကန် လမ်းမှန်တရားပြသပေးရန် များစွာသော စေတမန်တော်များကို ပွင့်ပေါ်စေခဲ့သည်။ ထိုနဗီရစူလ်အ ပေါင်းတို့သည် ပြစ်မှုဒုစရိုက်အပေါင်းမှ ကင်းစင်ကြပါသည်။ ၎င်းနဗီရစူလ်တို့၏ အရေအတွက်ကို အလ္လာဟ်အရှင်မြတ် သည်သာ အတိအကျ သိရှိတော်မူ၏။

၂။ အလ္လာဟ်အရှင်မြတ်သည် ၎င်းနဗီရစူလ်တမန်တော်များအား သာမန်လူသားများ မပြုစွမ်းနိုင်သည့်ကိစ္စရပ်များ ပြုလုပ် ပြသနိုင်စွမ်းကို ချီးမြှင့်ပေးထားတော်မူသည်။ ၎င်းအချက်ကို ပင် (မုအ်ဂျိဇဟ်) ဟုခေါ် ဆိုပါသည်။

၃။ နဗီတမန်တော်များတွင် ဦးစွာပထမ ဟဇ်ရသ်အာဒမ် عليه السلام ပွင့်ပေါ်တော်မူခဲ့ပြီး နောက်ဆုံးပွင့်တော်မူသောတမန်တော်မှာ ကျွန်ုပ်တို့၏တမန်တော်မုဟမ္မဒ် ﷺ ဖြစ်တော်မူ၏။ ကျန်ရှိတမန်တော်များသည် ထိုတမန်တော်ကြီးနှစ်ပါး၏စပ်ကြား၌ ပွင့်ပေါ်တော်မူခဲ့ကြကုန်၏။

၄။ ထင်ရှားကျော်ကြားသည့်တမန်တော်များမှာ

(၁) တမန်တော်အာဒမ် عليه السلام
(၂) တမန်တော်အိဒ်ရီးစ် عليه السلام
(၃) တမန်တော်နူးဟ် عليه السلام
(၄) တမန်တော်ဟူးဒ် عليه السلام
(၅) တမန်တော်ဆွာလေ့ဟ် عليه السلام
(၆) တမန်တော်အိဗ်ရာဟီးမ် عليه السلام
(၇) တမန်တော်အိစ်မာအီးလ် عليه السلام
(၈) တမန်တော်အိစ်ဟားက် عليه السلام
(၉) တမန်တော်ယအ်ကူးဗ် عليه السلام
(၁၀) တမန်တော်လူးတ့် عليه السلام
(၁၁) တမန်တော်ရှုအိုင်းဗ် عليه السلام
(၁၂) တမန်တော်ယူစွတ်ဖ် عليه السلام
(၁၃) တမန်တော်အိုင်ယူးဗ် عليه السلام

(၁၄) တမန်တော်ဇွလ်ကိဖ်လ် عليه السلام

(၁၅) တမန်တော်ယူနွတ်စ် عليه السلام

(၁၆) တမန်တော်မူစာ عليه السلام

(၁၇) တမန်တော်ဟာရူးန် عليه السلام

(၁၈) တမန်တော်အိလ်ယားစ် عليه السلام

(၁၉) တမန်တော်အလ်ယစအ် عليه السلام

(၂၀) တမန်တော်ဒါဝူးဒ် عليه السلام

(၂၁) တမန်တော်ဆိုလိုင်မာန် عليه السلام

(၂၂) တမန်တော်ဇကရိယာ عليه السلام

(၂၃) တမန်တော်ယဟ်ယာ عليه السလام

(၂၄) တမန်တော်အီစာ عليه السلام

(၂၅) နောက်ဆုံးပွင့်ပေါ်တော်မူသော တမန်တော်မြတ် မုဟမ္မဒ် ﷺ တို့ဖြစ်ကြ၏။

၅။ အလ္လာဟ်အရှင်မြတ်သည် နဗီရစူလ်အပေါင်း၏အရေ အတွက်ကို မည်သူ့ကိုမျှ အသိပေးတော်မမူခဲ့ပေ။ သို့ဖြစ်ပေရာ ကျွန်ုပ်တို့သည် နဗီရစူလ်အပေါင်းတို့ကို ၎င်းတို့၏ အမည်နာမတော်နှင့် သိသည်ဖြစ်စေ၊ မသိသည်ဖြစ်စေ အလ္လာဟ် အရှင်မြတ်စေလွှတ်တော်မူသောနဗီရစူလ်အပေါင်းတို့သည် မှန်မြတ်မှန်ကန်သူများဖြစ်ကြသည်ဟု အီမာန်သက်ဝင်ယုံကြည်ကြရပါမည်။

၆။ ရစူလ်တမန်တော်များ၌ အချို့သောတမန်တော်သည် အချို့သောတမန်တော်များထက် အဆင့်အတန်းတွင် မြင့်မား၏။ ကျွန်ုပ်တို့၏တမန်တော်မုဟမ္မဒ် ﷺ သည် ပွင့်လေသမျှသော နဗီရစူလ်အားလုံးထက် အမြင့်မြတ်ဆုံးဖြစ်ပြီး နောက်ဆုံးပွင့်ပေါ်တော်မူသောတမန်တော်ချုပ်ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ၏နောက် မည်သည့်တမန်တော်မှ ပွင့်ပေါ်တော့မည်မဟုတ်ပေ။ ကိယာမသ်နေ့အထိ လူနှင့် ဂျင်န်အားလုံးတို့၏ နဗီတမန်တော်သည် ကိုယ်တော်မြတ်မုဟမ္မဒ် ﷺ သာဖြစ်သည်။

၇။ ကျွန်ုပ်တို့၏တမန်တော်မုဟမ္မဒ် ﷺ အား အလ္လာဟ်အရှင်မြတ်သည် နိုးကြားလျက်ရှိနေစဉ် ကိုယ်တော်အား ခန္ဓာကိုယ်နှင့်တကွ မက္ကာဟ်ရွှေမြို့တော်မှ ဗိုင်သုလ်မုကတ်ဒတ်စ်သို့လည်းကောင်း၊ ထိုမှတစ်ဖန် မိုးကောင်းကင် (၇) ထပ်သို့လည်းကောင်း၊ ထိုမှတစ်ဖန် အလ္လာဟ်အရှင်မြတ်အလိုရှိတော်မူသည့်နေရာများသို့ ခေါ်ဆောင်သွားတော်မူပြီး ထိုည၌ပင် မက္ကာဟ်ရွှေမြို့တော်သို့ ပို့ဆောင်ပေးတော်မူခဲ့၏။ ၎င်းခရီးစဉ် ကို "မေအ့်ရာဇ်" ကိုယ်တော်မြတ် ﷺ ၏ကောင်းကင်ဘုံနန်း ခရီးစဉ်ဟု ခေါ်ဆိုပါသည်။

၈။ တမန်တော်မြတ် ﷺ ၏နောက် အခြားနဗီတမန်တော်တစ်ပါး

ပါးပွင့်ပေါ်ဦးမည်ဟု ယုံကြည်ချက်ထားရှိသူသည် ကာဖိရ် ဖြစ်သည်။

၉။ တမန်တော်မြတ် ﷺ သည် ကွယ်လွန်သေဆုံးပြီးနောက်တွင်လည်း ကဗရ်အတွင်း၌ မကွယ်လွန်ခင်အလျှင်က သက်တမ်းကဲ့သို့ ခန္ဓာကိုယ်နှင့်တကွ ရှင်သန်နေတော်မူသည်။

၁၀။ တမန်တော်မြတ် ﷺ ၏ရောင်ဝ်သွာတော်နား၌ သွားရောက်ပြီး ဒရူးဒ်၊ စလာမ်ပို့သလျှင် ကိုယ်တော်မြတ် ﷺ သည် ကိုယ်တိုင် ကြားတော်မူသည်။ ရောင်ဝ်သွာတော်အနီး၌ မဟုတ်ဘဲ အဝေးမှပို့သလျှင် ကောင်းကင်တမန်များက ဆောင်ယူသွားပြီး ကိုယ်တော်မြတ် ﷺ ထံ ပို့ဆောင်ပေးကြသည်။ ဆိုလိုသည်မှာ– ကောင်းကင်တမန်များက တမန်တော်မြတ် ﷺ ထံ သတင်းပို့ပေးကြသည်။

၁၁။ ကိုယ်တော်မြတ် ﷺ ၏ရောင်ဝ်သွာတော်အနီး ခစားပြီး "အို ....ကိုယ်တော်၊ ကျွန်တော့်အတွက် လွတ်ငြိမ်းချမ်းသာခွင့် တောင်းခံပေးပါ" စသည်ဖြင့် ရှဖာအသ် လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံပေးခိုင်းခြင်း ပိုင်သည်။

၁၂။ ကိုယ်တော်မြတ် ﷺ နှင့် ပတ်သက်သည့်အဖြစ်အပျက်အကြောင်းကိစ္စများ၊ (ဥပမာ– ကိုယ်တော်မြတ် ﷺ မီးရှူးဖွားမြင်သန့်စင်သည့် အခြေအနေများ) ၄င်းတို့ကို တင်ပြ

ပြောဆိုခြင်းသည် အလွန်နှစ်သက်ဖွယ်ကောင်းပြီး အမြင့်ဆုံး အဆင့်အတန်း၌ရှိသည့် မုစ်သဟာဗ်ဖြစ်သည်။

၁၃။ ကိုယ်တော်မြတ် ﷺ နှင့် နဗီတမန်တော်အားလုံးတို့၏ အိပ်ခြင်းသည် ဝုဇူမပျက်ပေ။ အဘယ်ကြောင့်ဆိုသော် နဗီတမန်တော်များ၏ အိပ်စက်ခြင်းသည် မျက်စိသာမှိတ်ပြီး စိတ်နှလုံးသားက မအိပ်စက်သောကြောင့်တည်း။

၁၄။ ကိုယ်တော်မြတ် ﷺ သည် နမာဇ်တွင်း၌ ကျောဖက်မှရှိနေသူများကို မိမိရှေ့၌ရှိနေသည့်အလား တွေ့မြင်တော်မူသည်။

၁၅။ တမန်တော်မြတ် ﷺ ၏ ခန္ဓာကိုယ်နှင့်ထိစပ်နေသော မြေကြီးသည်ကအ်ဗဟ်၊ အရ်ရှ်၊ ကုရ်စီတို့ထက်ပင် ပို၍မြတ်သည်။

၁၆။ နဗီတမန်တော်များနှင့် ဝလီသူတော်စင်များအား အကြောင်းခံထားပြီး ဒုအာတောင်းခံခြင်းသည် ၄င်းတို့ အသက်ထင်ရှားရှိနေစဉ်ဖြစ်စေ၊ ကွယ်လွန်သွားပြီးဖြစ်စေ၊ ပိုင်၏။ ဥပမာ– အို ... အလ္လာဟ်အရှင်မြတ်၊ ကျွန်တော်မျိုး၏ ဒုအာအား မည်သည့်သူတော်စင်အား အကြောင်းခံပြီး လက်ခံကဗူလ်ပြုတော်မူပါ။

၁၇။ တမန်တော်မြတ် ﷺ ၏ ရောင်ဇ်သွာတော်အား သွားရောက်ဇိယာရသ်ပြု ဖူးမြော်ခြင်းသည် အလွန်အကျိုးဆဝါးဗ်များသည့်ကိစ္စဖြစ်သည်။ အကယ်၍ တတ်စွမ်းနိုင်သူဖြစ်ပါက

ဝါဂျိဗ်နီးပါး တာဝန်ရှိပေသည်။

၁၈။ မဒီနဟ်မြို့သို့ ခရီးထွက်လျှင် ကိုယ်တော်မြတ် ﷺ ၏ ရောင်ဝ်သွာတော်၊ မတ်စ်ဂျိဒေနဗဝီနှင့် အခြားနေရာများ၏ နီယသ် ပြုခြင်း အကောင်းဆုံးဖြစ်သည်။

အကောင်းတကာ့ အကောင်းဆုံးမှာ ရောင်ဝ်သွာတော်အား ဇိယာရသ်ပြုရန် နီယသ်ပြုပါ။ အဘယ်ကြောင့်ဆိုမူ ဤသို့ပြုခြင်းသည် ကိုယ်တော်မြတ် ﷺ အား ဂုဏ်ပေးလေးစားရာရောက်သည်။

၁၉။ တမန်တော်မြတ် ﷺ သည် အဖန်ဆင်းခံများအနက် အသိပညာ အများဆုံးရရှိထားသည်။ အဖန်ဆင်းခံများ၌ မည်သည့်ကောင်းကင်တမန်၊ လူသား၊ ဂျင်န်မျှ ကိုယ်တော်မြတ် ﷺ လောက် အသိပညာကြွယ်ဝသူမရှိ။ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ် ﷺ အား ရှေ့ဖြစ်နောက်ဖြစ်အရာများ၏ အသိပညာများကို ပေးထားတော်မူသည်။ သို့သော် ကိုယ်တော်မြတ် ﷺ သည် အချိန်တိုင်းအရာတိုင်းကို သိနေသူဟုဆိုလိုခြင်းတော့မဟုတ်။

၂၀။ တစ်ဦးတစ်ယောက်သည် (ဥပမာ– ရှိုင်သွာန်သည်) ကိုယ်တော်မြတ် ﷺ ထက် ပညာအရာ၌ သာပိုသည်ဟု ယုံကြည်ချက်ထားခြင်းသည် ကုဖ်ကရ်ထိုက်သည်။

၂၁။ အကြင်သူသည် နဗီဖြစ်ကြောင်း ကြေငြာလေသည်။ (သို့) ငါသည် တမန်တော်အီစာ ﷺ ဟု ကြွေးကြော်လေသည်။ သို့မဟုတ် တမန်တော်အီစာ ﷺ အား အလ္လာဟ်အရှင်မြတ်က မိုးကောင်းကင်ဘုံနန်းသို့ ခေါ်ဆောင်ထားကြောင်းကို ငြင်းဆန်လေသည်။ ၄င်းကဲ့သို့ပင် အကြင်သူတစ်ဦးတစ်ယောက်၏ ယုံကြည်ချက်သည် မှားယွင်း၍ ထိုသူ၏ လုပ်ဆောင်ချက်များကလည်း အစ္စလာမ်အကီဒဟ်နှင့်လွဲမှားမှုများပေါ်လွင်လာပါက ထိုသူ့ကို ကာဖိရ်ဟု သတ်မှတ်ရပေမည်။ ထိုသူ့အား လက်ခံယုံကြည်သူသည်လည်း ကာဖိရ်ဖြစ်သည်။



## မလာအိကဟ်ကောင်းကင်တမန်များနှင့် ပတ်သက်သည့် ယုံကြည်ချက်များ

၁။ အလ္လာဟ်အရှင်မြတ်သည် အချို့သောအဖန်ဆင်းခံများကို 'နူရ်' ရောင်ခြည်တော်ဖြင့် ဖန်ဆင်းတော်မူပြီး ကျွန်ုပ်တို့၏ မျက်စိများဖြင့် မမြင်နိုင်အောင် ဖန်ဆင်းထားတော်မူ၏။ ၄င်းအဖန်ဆင်းခံများကို မလာအိကဟ်ကောင်းကင်တမန်များဟု ခေါ်ပါသည်။ ၄င်းကောင်းကင်တမန်များကို

မြောက်မြားစွာသောအလုပ်ကိစ္စများဆောင်ရွက်ရန် ခန့်အပ်ထားတော်မူသည်။ ၎င်းတို့သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်နှင့်ဆန့်ကျင်၍ မည်သည့်အလုပ်ကိုမျှမလုပ်ကြပေ။ ခန့်အပ်ထားသည့်အလုပ်များကိုသာ ပြုလုပ်လျက်ရှိကြသည်။

၂။ ကောင်းကင်တမန်များနက် (၄) ပါးသောကောင်းကင်တမန်ကြီးသည် အလွန်ထင်ရှားကျော်ကြား၏။

(၁) ဟဇ်ရသ်ဂျိဗ်ရာအီးလ် عَلَيْهِ السَّلَام

(၂) ဟဇ်ရသ်မီကာအီးလ် عَلَيْهِ السَّلَام

(၃) ဟဇ်ရသ်အိစ်ရာဖီးလ် عَلَيْهِ السَّلَام

(၄) ဟဇ်ရသ်အိဇ်ရာအီးလ် عَلَيْهِ السَّلَام တို့ဖြစ်ပါသည်။



## ဂျင်န်များနှင့်ပတ်သက်သည့် ယုံကြည်ချက်များ

၁။ အလ္လာဟ်အရှင်မြတ်သည် အချို့သောအဖန်ဆင်းခံများကို မီးဖြင့် ဖန်ဆင်းတော်မူထားသည်။ ၎င်းတို့ကိုလည်း ကျွန်ုပ်တို့မျက်စိများဖြင့် မတွေ့မြင်ရပေ။ ၎င်းတို့ကို ဂျင်န်ဟုခေါ်ပါသည်။ ၎င်းတို့အထဲတွင် အကောင်းအဆိုး အမျိုးမျိုးရှိကြပြီး လူများကဲ့သို့ ထိမ်းမြားခြင်းနှင့် သားသမီးရယူခြင်းများ

ရှိကြလေသည်။ ဂျင်န်များထဲတွင် အလွန်ဆိုးသွမ်းကျော်ကြားသူမှာ ရှိုင်သွာန်ဖြစ်လေသည်။



## ဝလီသူတော်စင်များနှင့်ပတ်သက်သည့် ယုံကြည်ချက်များ

၁။ မကောင်းမှုများမှ ရှောင်ကြဉ်ပြီး လောကီလောဘရမ္မက်များကို စွန့်လွှတ်ကာ တမန်တော်မြတ် ﷺ ၏လမ်းညွှန်မိန့်ကြားချက်အတိုင်း ဘဝဆောက်တည်သောသူသည် အလ္လာဟ်အရှင်မြတ်၏ အချစ်တော်ဖြစ်လေသည်။ ၎င်းကို ဝလီသူတော်စင် အလ္လာဟ်အရှင်မြတ်၏ အချစ်တော်ဟုခေါ် ဆိုပါသည်။ ၎င်းတို့ထံမှ ရံဖန်ရံခါ သာမာန်လူသားများ မစွမ်းဆောင်နိုင်သည့်အချက်များပေါ်ပေါက်လေသည်။ ၎င်းကို ကရာမသ်တန်ခိုးဟုခေါ် ဆိုပါသည်။

၂။ အသက်အရွယ်ကြီးမားသည့်အလ္လာဟ်အချစ်တော်ဖြစ်စေ၊ အသိအာရုံကောင်းနေသရွေ့ ရှရီအသ်တရားတော်ကို လိုက်နာရမည်မှာ ဖရ်ဇ်တာဝန်ဖြစ်၏ ။ နမာဇ်၊ ရိုဇာဟ်နှင့် မည်သည့်အိဗာဒသ်မှ ပလပ်ခွင့်မရှိပေ။ မည်သည့်ဂုနဟ်အကုသိုလ်မျှလုပ်ပိုင်ခွင့်မရှိပေ။

၃။ ရှရီအသ်တရားတော်နှင့်ဆန့်ကျင်သောသူသည် အလ္လာဟ်အ

ရှင်မြတ်၏ ဝလီအချစ်တော်မဖြစ်နိုင်ပေ။ ၎င်းသူထံမှ သာသနာနှင့်ဆန့်ကျင်သည့်အချက်များ ပေါ်ပေါက်ခဲ့ပါက ၎င်းအချက်တို့သည် မှော်အတတ် သို့မဟုတ် မျက်လှည့်ပညာ၊ စိတ်ညှို့ပညာသာ ဖြစ်ပေလိမ့်မည်။ ၎င်းအချက်များကို ယုံကြည်ခြင်း လုံးဝမပိုင်ပေ။

၄။ ဝလီသူတော်စင်တို့သည် အချို့လျှို့ဝှက်အပ်သည့်အချက်များကို အိပ်မက်၌ဖြစ်စေ၊ နိုးကြားလျက်ဖြစ်စေ သိရှိရ၏။ ၎င်းကို ကရှ်ဖ် သို့မဟုတ် အိလ်ဟားမ် ဟုခေါ်ဆိုပါသည်။ ၎င်းအချက်များသည် ရှရီအသ်တရားတော်နှင့် ကိုက်ညီပါက လက်ခံထိုက်ပြီး ရှရီအသ်တရားတော်နှင့် ဆန့်ကျင်နေပါက လုံးဝ လက်မခံထိုက်ပေ။



## ကျမ်းဂန်များနှင့်ပတ်သက်သည့် ယုံကြည်ချက်များ

၁။ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ဗန္ဒာဟ်ကျေးကျွန်များအား လမ်းမှန်ပြသပေးရန် မိုးကောင်းကင်မှ များစွာသော ကျမ်းကြီးကျမ်းငယ်များကို ဟဇ်ရသ်ဂျိဗ်ရာအီးလ် ﷺ ဖြင့် ရစူလ်တမန်တော်များထံ ချပေးတော်မူခဲ့၏။ ၎င်းကျမ်းဂန်များ

အနက် ကျမ်းကြီးလေးစောင်မှာ အလွှန်ထင်ပေါ် ကျော်ကြား လေသည်။

(၁) တမန်တော်မူစာ عليه السلام အား (သောင်ဝ်ရားသ်ကျမ်း)

(၂) တမန်တော်ဒါဝူးဒ် عليه السلام အား (ဇဗူးရ်ကျမ်း)

(၃) တမန်တော်အီစာ عليه السلام အား (အင်န်ဂျီးလ်ကျမ်း) နှင့်

(၄) တမန်တော်ချုပ် မုဟမ္မဒ် ﷺ သခင်အား ကုရ်အာန် ကျမ်းတော်မြတ်တို့ကို အသီးသီးချပေးတော်မူခဲ့၏။ ကျမ်းတော်မြတ်ကုရ်အာန်သည် နောက်ဆုံးချပေးတော်မူသည့် ကျမ်းမြတ်ဖြစ်ပြီး ၄င်းကျမ်းမြတ်၏နောက်တွင် မည်သည့် ကျမ်းဂန်မျှချပေးတော်မူမည်မဟုတ်ပေ။ ကျမ်းတော်မြတ် ကုရ်အာန်၏ အမိန့်သည်သာ ကိယာမသ်နေ့အထိ အတည် ဖြစ်၏။

၂။ ကုရ်အာန်ကျမ်းတော်မြတ်မှအပ အခြားသောကျမ်းဂန်များ ကို လမ်းလွဲလမ်းမှားသူများ မဃမာသူများက ပြင်ဆင် ပြောင်းလဲလိုက်ပြီးဖြစ်သည်။ ကျမ်းတော်မြတ်ကုရ်အာန်ကို သာ နှုတ်က်သဟ်တစ်လုံးမျှပင် အပြောင်းအလဲမရှိအောင် အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင် ထိန်းသိမ်းထားတော် မူသည်။ သို့ဖြစ်ပေရာ ကျမ်းမြတ်ကုရ်အာန်ကို မည်သူမျှ ပြုပြင်ပြောင်းလဲနိုင်စွမ်းမရှိပေ။

၂။ ကျမ်းတော်များသည် အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဌ်တော်များ (ဝါ) မိန့်ခွန်းချက်များဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ အဖန်ဆင်းခံများဟု မမှတ်ယူရပေ။



# ဆွဟာဗဟ်သာဝကကြီးများနှင့်ပတ်သက်သည့် ယုံကြည်ချက်များ

၁။ ကျွန်ုပ်တို့၏ တမန်တော် မုဟမ္မဒ် ﷺ အား အီမာန်နှင့်တကွ တွေ့မြင်ပြီး အီမာန်နှင့်တကွ ကွယ်လွန်သူကို ဆွဟာဗီဟုခေါ်ဆိုပါသည်။ ဆွဟာဗီသာဝကများ၏ ထွတ်မြတ်မှုများ များစွာလာရှိလေသည်။ ၎င်းပုဂ္ဂိုလ်များအား လေးစားချစ်ခင်ရမည်ဖြစ်ပြီး ကောင်းမြတ်သောအထင်အမြင်များထားကြရမည်မှာအရေးကြီးတာဝန်ဖြစ်၏။ ၎င်းပုဂ္ဂိုလ်များထဲတွင် ဆွဟာဗီကြီး (၄) ပါးသည် ထင်ပေါ်ကျော်ကြားပြီး အခြားသော ဆွဟာဗီများထက် အဆင့်အတန်းမြင့်မားကြပါသည်။ ၎င်းဆွဟာဗီကြီးလေးပါး၌ ကျွန်ုပ်တို့၏ တမန်တော်မုဟမ္မဒ် ﷺ ကွယ်လွန်ပြီးနောက် ဟဇ်ရသ်အဘူဘကရ် ؓ သခင်သည် အုမ္မသ်ထုတစ်ရပ်လုံး၌ အမွန်မြတ်ဆုံးဖြစ်သည့်အပြင် တမန်တော်မြတ် ﷺ ၏ အရိုက်အရာကို ဆက်ခံသည့်ကိုယ်စားလှယ်

တော်ကြီးဖြစ်ပြီး ပထမခလီဖဟ်ကြီးလည်းဖြစ်သည်။

ဟဇ်ရသ်အဘူဗကရ် ﷺ သခင် ကွယ်လွန်ပြီးနောက် ဟဇ်ရသ်အုမရ် ﷺ သခင်သည် အွမ္မသ်ထုတစ်ရပ်လုံး၌ အမွန်မြတ်ဆုံးသော ပုဂ္ဂိုလ်မွန်ဖြစ်သည့်အပြင် ဟဇ်ရသ်အဘူဗကရ် ﷺ သခင်၏ အရိုက်အရာကိုဆက်ခံသည့် ကိုယ်စားလှယ်တော်ကြီးဖြစ်ပြီး ဒုတိယခလီဖဟ်ကြီးလည်းဖြစ်သည်။

ဟဇ်ရသ်အုမရ် ﷺ သခင် ကွယ်လွန်ပြီးနောက် ဟဇ်ရသ်အွတ်ဆ်မာန် ﷺ သခင်သည် အွမ္မသ်ထုတစ်ရပ်လုံး၌ အမွန်မြတ်ဆုံးသောပုဂ္ဂိုလ်မွန်ဖြစ်သည့်အပြင် ဟဇ်ရသ်အုမရ် ﷺ သခင်၏ အရိုက်အရာကိုဆက်ခံသည့် ကိုယ်စားလှယ်တော်ကြီးဖြစ်ပြီး တတိယခလီဖဟ်ကြီးလည်းဖြစ်သည်။

ဟဇ်ရသ်အွဆ်မာန် ﷺ သခင်ကွယ်လွန်ပြီးနောက် ဟဇ်ရသ်အလီ ﷺ သခင်သည် အွမ္မသ်ထုတစ်ရပ်လုံး၌ အမွန်မြတ်ဆုံးပုဂ္ဂိုလ်ဖြစ်သည့်အပြင် ဟဇ်ရသ်အွဆ်မာန် ﷺ သခင်၏ အရိုက်အရာကိုဆက်ခံသည့် ကိုယ်စားလှယ်တော်ကြီးဖြစ်ပြီး စတုတ္ထခလီဖဟ်ကြီးလည်းဖြစ်သည်။

၂။ ဆွဟာဗဟ်သာဝကကြီးတို့၏ အဆင့်အတန်းသည် အဘယ်မျှမြင့်မားသည်ဆိုသော် အကြီးမားဆုံးသောဝလီသူတော်စင်သည်ပင် ဖြစ်စေကာမူ အဆင့်အတန်းအနိမ့်ဆုံးသော ဆွဟာဗီတစ်ပါး၏ အဆင့်အတန်းနှင့် မတူညီနိုင်ပေ။

၃။ တမန်တော်မြတ် ﷺ ၏ သားတော် သမီးတော်များနှင့်ဇနီး ကြင်ယာတော်တို့အား ဂုဏ်ပေးလေးစား ရိုသေမှုထားကြရမည်။ သားတော်သမီးတော်များထဲတွင် အမွန်မြတ်ဆုံးသောသူမှာ ဟဇ်ရသ်ဖာသွေမဟ် ﷺ သခင်မဖြစ်ပြီး ဇနီးကြင်ယာတော်များထဲတွင် ဟဇ်ရသ်ခဒီဂျဟ် ﷺ သခင်မနှင့် ဟဇ်ရသ်အာအိရှာဟ် ﷺ သခင်မတို့ဖြစ်ကြပါသည်။

၄။ ဆွဟာဗီတစ်ပါးပါးအား ပြောင်လှောင်သရော်သူသည် အယုတ်မာဆုံးသူဖြစ်သည်။ ထိုသူသည် သောင်ဝ်ဗဟ်ပြုရမည်။ သို့မဟုတ်က အီမာန် လက်မဲ့အခြေအနေနှင့် သေဆုံးရန်စိုးရိမ်ရသည်။

၅။ ဆွဟာဗဟ်သာဝကကြီးများအနက် အများစုကို မှားသည်ဟု ခံယူချက်ထားရှိသူ၊ ၎င်းတို့အား ပြောင်လှောင်သရော်မှုပြုသူများသည် ကာဖိရ်ဖြစ်သည်။

၆။ "ငါကတော့ ............ ဆွဟာဗီရဲ့ဟဒီးဆ်ဆင့်ပြန်ချက်ဆိုလုံးဝလက်မခံဘူး" ဟု ဆွဟာဗဟ်တစ်ပါးပါးအား မယုံသင်ကာဖြင့် ပြောဆိုခြင်း၊ ဆွဟာဗဟ်တစ်ပါးပါးအား ဖာစစ်က်ဟု သမုတ်ပြီး ၎င်း၏ဆင့်ပြန်ချက်များအား လက်မခံ ငြင်းပယ်ခြင်းတို့သည် သူယုတ်မာဖြစ်ခြင်းနှင့် သာသနာမှ ကျောခိုင်းသည့်နိမိတ်လက္ခဏာများပင်တည်း။



# အီမာန်ပျက်စေနိုင်သည့်အချက်များနှင့် ပတ်သက်သည့်ယုံကြည်ချက်များ

၁။ အီမာန်တည်မြဲစေရန်အတွက် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မုဟမ္မဒ် ﷺ သခင်၏လုပ်ရပ်တိုင်းကို မှန်ကန်သည်ဟု မှတ်ယူယုံကြည်ရမည်။ အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ﷺ ၏ အမိန့်ဩဝါဒတော်တစ်ခုခု၌ သံသယမကင်းဖြစ်ခြင်း၊ ငြင်းဆန်ခြင်း၊ ချွတ်ယွင်းချက်များ၊ အပြစ်များရှာခြင်းနှင့် လှောင်ပြောင်ပျက်ရယ်ပြုခြင်းတို့ဖြင့် အီမာန်ပျက်သွားစေပါသည်။

၂။ ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးဆ်တော်မြတ်၏ ပွင့်လင်းထင်ရှားသော အဓိပ္ပာယ်များကို လက်မခံဘဲ မိမိလိုရာ အဓိပ္ပာယ်ဆွဲယူခြင်းသည် သာသနာပျက်စေမည့်အချက်များ ဖြစ်သည်။

၃။ အကုသိုလ် မကောင်းမှုဒုစရိုက်ကို ပြုပိုင်သည့်အချက်ဟု မှတ်ယူယုံကြည်ပါက အီမာန်ပျက်၏။ ဂိုနဟ်အကုသိုလ်များကို ကျူးလွန်ပြီး ၎င်းဂိုနဟ်များ ကျူးလွန်နိုင်ခြင်းကို မာန်မာနထောင်၊ ဂုဏ်ယူဝင့်ကြွားလျှင်လည်း အီမာန်ပျက်၏။

၄။ အကုသိုလ်ဒုစရိုက်သည် မည်မျှပင်ကြီးမားသည်ဖြစ်စေ

ထိုအမှုကို မကောင်းမှုဟုယူဆမှတ်ယူနေသရွေ့ အီမာန်မပျက်ပေ။ သို့ပေသော်လည်း အီမာန်၏အင်အားလျော့နည်းသွားပေမည်။

၅။ အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့မှုကင်းမဲ့ခြင်းနှင့် အရှင်မြတ်၏ဂရုဏာတော်ကို မျှော်လင့်ချက်ကင်းမဲ့သွားခြင်းသည် ကုဖ်ရ် သွေဖည်ခြင်းဖြစ်၏ ။

၆။ နက္ခတ်ဗေဒင်ဖြင့်လည်းကောင်း၊ မည်သည့်နည်းနှင့်မဆို အကွယ်မှအရာများကိုမေးမြန်းခြင်း၊ ရှေ့ဖြစ်နောက်ဖြစ်မေးမြန်းခြင်း၊ ယုံကြည်ခြင်းတို့သည် (ကုဖ်ရ်) သွေဖည်ခြင်းဖြစ်၏ ။

၇။ အကွယ်၌ဖြစ်ပျက်သည့်ကိစ္စရပ်များကို အလ္လာဟ်အရှင်မြတ်မှအပ မည်သူမျှမသိရှိပေ။ သို့ပေသော်လည်း အလ္လာဟ်အရှင်မြတ်က နဗီတမန်တော်များကို များစွာသောအကွယ်၌ဖြစ်ပျက်မည့်ကိစ္စရပ်များကို ပြသပေးတော်မူခဲ့၏ ။ ကျွန်ုပ်တို့၏ တမန်တော်မြတ် ﷺ အား အလ္လာဟ်အရှင်မြတ်သည် လူသားအားလုံးထက် များစွာသောပညာရပ်များနှင့် အကွယ်မှကိစ္စများကို အသိပေးတော်မူခဲ့ပါသည်။ မည်သို့ပင်ဆိုစေ အာလေမွလ်ဂိုင်းဗ် အကွယ်ကိုသိသောအရှင်သည် အလ္လာဟ်အရှင်မြတ်သာဖြစ်တော်မူ၏ ။

၈။ တစ်ဦးတစ်ယောက်အား "ကာဖိရ်" ဟူ၍လည်းကောင်း၊ "လအ်နသ်" ကျိန်ဆဲခြင်းသည်လည်းကောင်း "ဂိုနာဟ်" အကုသိုလ်ဖြစ်၏။ သို့သော် ညှင်းပမ်းနှိပ်စက်သူအပေါ် လအ်နသ်ကျိန်ဆဲခြင်းပြုပိုင်လေသည်။

၉။ အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် ﷺ တို့က ကာဖိရ်ဟူ၍လည်းကောင်း၊ "မလ်အူးန်" ကျိန်စာသင့်သူဟူ၍ လည်းကောင်း၊ ထုတ်ဖော်ပြောဆိုခဲ့သောသူတို့အား ကာဖိရ် (သို့မဟုတ်) မလ်အူးန်ဟူ၍ ပြောဆိုခြင်းပိုင်၏။ ၎င်းတို့အား ကာဖိရ်အဖြစ်နှင့်သေမည်ဟု ယုံကြည်ခြင်း၊ ကာဖိရ်ဟုသတ်မှတ်ခြင်းနှင့် ငရဲလားမည့်သူများဟု ပြောဆိုခွင့်ရှိပါသည်။



## အာခိရသ်တမလွန်နှင့် ပတ်သက်သည့်ယုံကြည်ချက်များ

၁။ သေဆုံးကွယ်လွန်ပြီးနောက် ဒဖန်ပြု မြှုပ်နှံသည်ဖြစ်စေ၊ မမြှုပ်နှံသည်ဖြစ်စေ မည်သည့်အခြေအနေ၌မဆို မွန်ကရ် နကီးရ် ဖရိရှ်သဟ်နှစ်ပါး ရောက်ရှိလာပြီး "အသင်၏ အရှင်သခင်သည် မည်သူနည်း?၊ အသင်၏ သာ သနာကား အဘယ်နည်း?၊ တမန်တော်မြတ် ﷺ ကို ပြသ၍ ဤပုဂ္ဂိုလ်သည် မည်သူဖြစ်သနည်း?" ဟု မေးမြန်းကြလိမ့်မည်။

သေဆုံးကွယ်လွန်သူသည် အိမာန်ရှင်ဖြစ်ပါက မေးခွန်းတိုင်းကို ကောင်းမွန်စွာဖြေဆိုနိုင်မည်ဖြစ်ပြီး ကောင်းမွန်လှသည့်သုခစည်းစိမ်များ ရရှိနေပေလိမ့်မည်။ ဂျန္နသ်၏ပြတင်းပေါက်ကို ဖွင့်ပေးတော်မူမည်ဖြစ်ပြီး ဂျန္နသ်မှ လေနုအေးနှင့် မွှေးရနံ့များ ရရှိနေလိမ့်မည်။ ကိယာမသ်နေ့ထိ ၎င်းစည်းစိမ်များကို ခံစားနေရလိမ့်မည်။

အကယ်၍ သေဆုံးကွယ်လွန်သူသည် အိမာန်ရှင်မဟုတ်ခဲ့ပါက မေးခွန်းတိုင်း၌ ကျွန်ုပ် ဘာမှမသိပါဟုသာ ဖြေဆိုလိမ့်မည်။ ၎င်းသူသည် ပြင်းထန်သည့် အဇားဗ်အပြစ်ဒဏ်ကို ကိယာမသ်နေ့ထိ ခံစားနေရမည်။ ၎င်းအဖြစ်အပျက်အားလုံးကို သေသူသာသိရှိခံစားနေရမည်ဖြစ်ပြီး ရှင်နေသူများ သိမြင်နိုင်ကြမည်မဟုတ်ပေ။

အိပ်စက်နေသူ၏ အိပ်မက်ကမ္ဘာကို ဘေး၌ထိုင်နေသူ မသိသကဲ့သို့ဖြစ်၏။

၂။ သေဆုံးကွယ်လွန်ပြီးနောက် သေသူအား ၎င်းနေရမည့်နေရာကို နေ့စဉ် နံနက်ညနေ ပြသလိမ့်မည်။ ဂျန္နသီသုခဘုံသားအားဂျန္နသ်ကိုပြသ၍ သတင်းကောင်းပေးလိမ့်မည်။ ပြစ်ဒဏ်ထိုက်သူအား ဂျဟန္နမ်အပယ်ငရဲကိုပြသ၍ ပူဆွေးသောကများတိုးပွားစေလိမ့်မည်။



# ကိယာမသ်ကမ္ဘာပျက်မည့်နေ့နှင့်ပတ်သက်သည့် ယုံကြည်ချက်များ

ကိယာမသ်နှင့်ပတ်သက်သည့် အတိတ်နိမိတ်လက္ခဏာများကို အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် ﷺ တို့က ကြိုတင်မိန့်ကြားခဲ့ပြီးဖြစ်ပေရာ ၎င်းကိစ္စရပ်တို့သည် မုချ ဖြစ်ပေါ်လာပေလိမ့်မည်။ (ကိယာမသ်) အလျှင်ဖြစ်ပေါ်မည့် အတိတ်နိမိတ်လက္ခဏာများမှာ–

၁။ "အိမာမ်မဟ်ဒီ" ပွင့်ပေါ်လာပြီး အလွန်တရားမျှတစွာ အုပ်ချုပ်တော်မူလိမ့်မည်။

၂။ မျက်စိတစ်လုံးကန်း "ဒဂ်ျဂျာလ်" ထွက်ပေါ်လာပြီး လောကမြေပြင်၌ များစွာ ဆူပူသောင်းကျန်း ဖျက်ဆီးမှုပြုလိမ့်မည်။

၃။ "ဒဂ်ျဂျာလ်" အား သတ်ဖြတ်ရန်အတွက် ဟဇ်ရသ်အီစာ عليه السلام မိုးကောင်းကင်မှ ဆင်းသက်လာပြီး ၎င်းအား သတ်ဖြတ်သုတ်သင်လိမ့်မည်။

၄။ "ယာဂျူဂ်ျ မာဂျူဂ်ျ" ခေါ် လူမျိုးတစ်မျိုးထွက်ပေါ်လာပြီး ဒွန်နယာလောကတွင် ဆူပူအကြမ်းဖက်မှုများ ပြုလုပ်ကြမည်။ ထိုသူတို့သည် အလ္လာဟ်အရှင်မြတ်၏ အမျက်တော်ဖြင့် သေကြေပျက်စီးကြကုန်လိမ့်မည်။

၅။ အုံဩဖွယ်ကောင်းသည့် တိရိစ္ဆာန်ကြီးတစ်ကောင် မြေပြင်မှ ထွက်ပေါ်လာပြီး လူသားများနှင့် စကားပြောဆိုလိမ့်မည်။

၆။ အနောက်အရပ်မှ နေထွက်လိမ့်မည်။

၇။ မုစ်လင်မ်များအားလုံး သေဆုံးကွယ်လွန်သွားကြမည်ဖြစ်ပြီး လောကတစ်ခုလုံးသည် ကာဖိရ်များနှင့် ပြည့်နှက်နေပေလိမ့်မည်။ ၎င်းအချက်များမှအပ အခြားများစွာသောကိစ္စရပ်များလည်း ဖြစ်ပေါ်ဦးမည်။

၈။ နိမိတ်လက္ခဏာအားလုံး ပေါ်ပေါက်ပြီးဆုံးပြီးနောက် 'ကိယာမသ်နေ့' ရောက်ရှိလာမည်။ ဟဇ်ရသ်အိစ်ရာဖီးလ် ﷺ သည် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်ဖြင့် "စူရ်" တံပိုးမှုတ်တော်မူမည်။ ယင်းစူရ်တံပိုးသည် အလွန်ကြီးမား၍ ဦးချိုပုံသဏ္ဍာန်ဖြစ်လေသည်။ ထိုတံပိုးမှုတ်လျှင် ကမ္ဘာမြေပြင်တစ်ခုလုံးနှင့် ကောင်းကင်များသည် အက်ကွဲပြိုကျ၍ အပိုင်းပိုင်းအစစဖြစ်သွားလိမ့်မည်။ ခပ်သိမ်းသောအရာများနှင့် သတ္တဝါအပေါင်းတို့ သေကြေပျက်စီးကြကုန်ပေလိမ့်မည်။

၉။ တစ်ဖန် အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်အရ ဟဇ်ရသ်အိစ်ရာဖီးလ် ﷺ က ဒုတိယအကြိမ် 'စူရ်' တံပိုးကို မှုတ်လိမ့်မည်။ ထိုသို့ "စူရ်" ခရာတံပိုးမှုတ်ခြင်းကြောင့် စကြာဝဠာအပေါင်းပြန်လည်ဖြစ်ပေါ်လာပြီး ကိယာမသ်ကမ္ဘာ့တရား

စီရင်ရမည့်ကွင်းပြင်ကြီးသို့ စုဝေးရောက်ရှိလာကြရမည်။

၁၀။ ထိုကိယာမသ်ကမ္ဘာ့တရားစီရင်မည့်နေ့၏ ကြောက်မက်ဖွယ်ရာများကို လူသားအားလုံး တွေ့မြင်ကြရ၍ စိုးရိမ်ကြောင့်ကျမှုဖြစ်ကာ နဗီတမန်တော်များထံသို့ အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ အသနားခံပေးမှုရယူရန် ရောက်ရှိလာကြမည်။ နောက်ဆုံးတွင် ကျွန်ုပ်တို့၏ နဗီတမန်တော်မြတ် ﷺ က အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ အသနားခံပေးမှုပြုတော်မူလိမ့်မည်။

၁၁။ ကိယာမသ်နေ့တွင် ကောင်းမှု/မကောင်းမှုတို့ကို ချိန်တွယ်ရန်အတွက် “မီဇာန်” ချိန်ခွင်ကို ထားရှိတော်မူပြီး ကောင်းမှု/မကောင်းမှုတို့ကို ချိန်တွယ်ကာ စာရင်းပြုစုမှတ်သားလိမ့်မည်။

၁၂။ များစွာသောသူတို့သည် စာရင်းစစ်ဆေးခြင်း မခံရဘဲ အလ္လာဟ်အရှင်မြတ်၏ အသနားတော်ဖြင့် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စံမြန်းကြရမည် ။

၁၃။ ကောင်းမွန်သောသူတို့၏ ကောင်းမှုမှတ်တမ်းကို ၎င်းတို့၏ ညာဖက်လက်တွင် ပေးအပ်ချီးမြှင့်မည်ဖြစ်ပြီး ဆိုးသွမ်းသူတို့၏ အကုသိုလ်မှတ်တမ်းကို ၎င်းတို့၏ လက်ဝဲလက်၌ ပေးအပ်လိမ့်မည်။

၁၄။ ကိယာမသ်နေ့၌ တမန်တော်မြတ် ﷺ သည် မိမိ၏ အွမ္မသ်သူ အွမ္မသ်သားများအား 'ကောင်ဝ်စရ်' ရေကန်မှရေကို မိမိလက်တော်ဖြင့် တိုက်ကျွေးတော်မူပေလိမ့်မည်။ ထိုရေသည် နို့ထက်ဖြူ၍ ပျားရည်ထက်ပင် သာပိုချိုမြပေမည်။

၁၅။ တစ်ဖန် "ပွလ်စိရားသ်" တံတားပေါ်မှ ဖြတ်လျှောက်ကြရမည်။ ကောင်းမွန်သောသူတို့သည် ကောင်းမွန်စွာ ဖြတ်ကျော်သွားပြီး ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စံမြန်းကြရမည်။ အပြစ်ရှိသူတို့မှာကား ၎င်းတံတားပေါ်မှ လိမ့်ကျကာ ဂျဟန္နမ် အပယ်ငရဲသို့ရောက်ရှိသွားလိမ့်မည်။

၁၆။ "ဂျဟန္နမ်" အပယ်ငရဲဘုံကို ဖန်ဆင်းထားပြီးဖြစ်သည်။ ၎င်းအထဲ၌ မြွေ၊ ကင်း အစရှိသည့် အမျိုးမျိုးသော "အဇားဗ်" အပြစ်ဒဏ်များလည်းရှိသည်။

၁၇။ အီမာန်ရှင်သည် မည်မျှပင်ကြီးမားသည့် ပြစ်မှုကျူးလွန်သူဖြစ်စေ၊ မိမိနှင့်ထိုက်တန်သည့်အပြစ်ဒဏ်ခံယူပြီးနောက် နဗီတမန်တော်များနှင့် သူမွန်သူမြတ်တို့၏ အသနားခံ ချတ်ကယ်ပေးမှုဖြင့် "ဂျန္နသ်" သုခဘုံသို့ ဝင်ရောက်စံမြန်းကြရမည်။

၁၈။ "ကာဖိရ်" အလ္လာဟ်အရှင်မြတ်အား သွေဖည်ငြင်းဆန်သူနှင့် မွရှ်ရစ်က် တုပနိူင်းယှဉ်ကိုးကွယ်သူတို့သည် "ဂျဟန္နမ်" ၌ အမြဲထာဝစဉ် ပြစ်ဒဏ်ခံနေရမည့်အပြင် သေခြင်းတရား

သည်လည်း ၄င်းတို့ထံ ဆိုက်ရောက်လာတော့မည်မဟုတ်ပေ။

၁၉။ "ဂျန္နသ်" သုခဘုံသည်လည်း ဖန်ဆင်းထားပြီးဖြစ်သည်။ ထိုဂျန္နသ်ထဲ၌ များစွာသောသုခစည်းစိမ်များနှင့် ပျော်ရွှင်ချမ်းမြေ့ဖွယ်ရာများ တည်ရှိနေ၍ သုခဘုံသားတို့သည် မည်သည့် ကြောက်ရွံ့စိုးရိမ်စရာမျှရှိမည်မဟုတ်။ ဂျန္နသ်သုခဘုံ၌ အမြဲထာဝရနေကြရမည်။ သေဆုံးကွယ်လွန်မည်မဟုတ်တော့သည့်အပြင် သုခဘုံမှ မည်သည့်အခါမှ ထွက်ရတော့မည်မဟုတ်ပေ။ ဂျန္နသ်သုခဘုံမှ ထွက်ရန်လည်း ဆန္ဒရှိကြမည်မဟုတ်ပေ။

၂၀။ အလ္လာဟ်အရှင်မြတ်သည် သေးငယ်သည့် "ဂိုနဟ်" ကို ပြစ်ဒဏ်ခတ်၍ ကြီးမားသည့်ပြစ်မှုကို မိမိအသနားတော်ဖြင့် လုံး၀ ခွင့်လွှတ်နိုင်သောအရှင်ဖြစ်၏။

၂၁။ အလ္လာဟ်အရှင်မြတ်သည် "ရှစ်ရ်က်နှင့် ကုဖ်ရ်" ပြစ်မှုဂိုနာဟ်မှအပ ကျန်ပြစ်မှုများအား မိမိအလိုတော်ရှိပါက ခွင့်လွှတ် တော်မူမည်ဖြစ်ပြီး "ရှစ်ရ်က်နှင့် ကုဖ်ရ်" ပြစ်မှုကို မည်သည့် အခါမျှ ခွင့်လွှတ်တော်မူမည်မဟုတ်ပေ။

၂၂။ အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်က "ဂျန္နသီ" ဟု သတ်မှတ်မြွက်ဟပြောဆိုထားသူများမှအပ မည်သူ့ကိုမျှ (ဂျန္နသီ) သုခဘုံသားဟု ပြောဆိုပိုင်ခွင့်မရှိ။ သို့သော် ကောင်း

မွန်သောအချင်းလက္ခဏာကို တွေ့မြင်ရ၍ ကောင်းမွန်သော အထင်အမြင်ထားခြင်း ပိုင်သည်။

၂၃။ ဂျန္နသ်သုခဘုံ၌ ဂျန္နသီများရရှိမည့် အကြီးမားဆုံးသော "နိအ်မသ်" စည်းစိမ်တော်မှာ အလ္လာဟ်အရှင်မြတ်အား ဖူးမြော်ရသည့် "နိအ်မသ်" စည်းစိမ်ပင်ဖြစ်၏။

၎င်း "နိအ်မသ်" ၏ အရသာဖြင့် ကျန်ရှိသောနိအ်မသ် များမေ့ပျောက်ကုန်လိမ့်မည်။

၂၄။ လူ့လောက၌ နိုးကြားနေစဉ် အလ္လာဟ်အရှင်မြတ်အား မည်သူမျှ မတွေ့မြင်နိုင်ပေ။

၂၅။ သက်တမ်းတစ်လျှောက်လုံး မည်မျှပင်ကောင်းမွန်သူ၊ ဆိုးသွမ်းသူဖြစ်စေ၊ သေဆုံးသည့်အချိန်တွင် "အီမာန်ရှင်" အဖြစ်နှင့်ကွယ်လွန်မှသာ "အီမာန်ရှင်" အဖြစ် သတ်မှတ်ခြင်းခံရမည်ဖြစ်ပြီး သေ့ဖည်ငြင်းဆန်သည့်အခြေအနေ၌ ကွယ်လွန်ခဲ့ပါက "ကာဖိရ်" အဖြစ်သာ သတ်မှတ်ခြင်းခံရမည်။

၂၆။ သက်တမ်းတစ်လျှောက်လုံး၌ မည်သည့်အချိန်မဆို "မုစ်လင်မ်" ၏ "သောင်ဝ်ဗဟ်ပြု" အမှားဝန်ခံခြင်းနှင့် "ကာဖိရ်" ၏ အီမာန်သက်ဝင်ယုံကြည်ခြင်းကို အလ္လာဟ်အရှင်မြတ် လက်ခံတော်မူသည်။

၂၇။ အသက်ငင်ပြီး သေအံ့ဆဲဆဲအချိန် "အဇားဗ" အပြစ်ဒဏ်ပေးမည့် ကောင်းကင်တမန်များကို တွေ့ရသည့်အချိန်ဆိုက်ရောက်ကာမှ အီမာန်ရှင်၏ သောင်ဝ်ဗဟ်ပြု(အမှားဝန်ခံခြင်း)နှင့် ကာဖိရ်၏ အီမာန်သက်ဝင်ယုံကြည်ခြင်းကို အလ္လာဟ်အရှင်မြတ် လက်ခံတော်မမူပေ။

၂၈။ ကာဖိရ်သည် မည်သည့်အခါမှ လွတ်ငြိမ်းချမ်းသာခွင့်ရရှိမည်မဟုတ်။ အီမာန်ရှင် ဂုနဟ်ပြစ်မှုကျူးလွန်သူအား အလ္လာဟ်အရှင်မြတ်က ခွင့်လွှတ်၍သော်လည်းကောင်း၊ ပြစ်ဒဏ်ခတ်၍သော်လည်းကောင်း၊ ဂျန္နသ်သုခဘုံသို့ ပို့ဆောင်ပေးတော်မူလိမ့်မည်။



## ယုံကြည်ချက်အချို့

၁။ ဂျန္နသ်သုခဘုံရှိကြောင်းကို ယုံကြည်ရမည်။ ယင်းဂျန္နသ်သည် အီမာန်ရှင်များအတွက်သာဖြစ်သည်။ ဂျန္နသ်သုခဘုံအား မယုံကြည်လျှင် အီမာန်ရှင်မဖြစ်နိုင်ပေ။

၂။ ဂျန္နသ်သုခဘုံ၌ စိတ်ဆင်းရဲမှု၊ ဒုက္ခ၊ အလိုဆန္ဒမပြည့်ဝမှု၊ အနည်းငယ်မျှရှိမည်မဟုတ်။

၃။ ဂျဟန္နမ်ငရဲဘုံရှိကြောင်းကို ယုံကြည်ရမည်။ ဂျဟန္နမ်သည်

ကာဖိရ်၊ မွှရ်ရစ်က်၊ မုနာဖစ်က်နှင့် အီမာန်ရှင်များအနက်မှ အပြစ်ဂိုနဟ်ကျူးလွန်သူများအတွက်ဖြစ်သည်။ သို့သော် အီမာန်ရှင်များကမူ ဂျဟန္နမ်၌ အမြဲနေရမည်မဟုတ်။

ဂျဟန္နမ်ကို ငြင်းပယ်လျှင် ကာဖိရ်ဖြစ်သည်။

၄။ ဂျဟန္နမ်ငရဲဘုံ၌ စိတ်ချမ်းသာမှု၊ ဝမ်းသာစရာ၊ စည်းစိမ်သုခ၊ အနည်းငယ်မျှပင် ရှိမည်မဟုတ်။

၅။ ကာဖိရ်၊ မွှရ်ရစ်က်၊ မုနာဖစ်က်များသည် ဂျဟန္နမ်ငရဲဘုံ၌ အစဉ်အမြဲနေရမည်။ မည်သည့်အခါမှ လွတ်မြောက်မည် မဟုတ်။

၆။ "အအ်ရားဖ်" ကို ယုံကြည်ရမည်။ အအ်ရားဖ်ဆိုသည်မှာ ဂျန္နသ်နှင့် ဂျဟန္နမ်၏ကြားလယ်၌ ရှိနေသောနေရာတစ်ခု ဖြစ်သည်။ အီမာန်ရှိပြီး ကောင်းမှုနှင့် မကောင်းမှု အလေး ချိန်တူညီနေသူများ ၄င်းနေရာ၌ နေရမည်။ သို့သော် ထို ပုဂ္ဂိုလ်သည်လည်း တစ်ချိန်၌ ဂျန္နသ်သုခဘုံသို့ ဝင်ရောက်စံ မြန်းရမည်။ အအ်ရားဖ်ကို ငြင်းပယ်လျှင်လည်း ကာဖိရ် ဖြစ်သည်။

၇။ တရားတော်က ဟလာလ်ဟု ပညတ်ထားသည်ကို ဟလာလ်ဟု သာမှတ်ယူယုံကြည်ရမည်။ ဟရာမ်ဟုပညတ်ထားသည်ကို ဟရာမ်ဟုသာ မှတ်ယူယုံကြည်ရမည်။



## ဗိဒ်အသ်ဆိုသည်မှာ . . .

အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ် ﷺ က ကုရ်အာန်ကျမ်းတော်မြတ်နှင့် ဟဒီးဆ်တော်မြတ်များတွင် ဒီးန်သာသနာနှင့်ပတ်သက်သည့် ကိစ္စရပ်များကို ချမှတ်ထားပေးပြီးဖြစ်သည်။ တရားတော်မှ သတ်မှတ်ပြဋ္ဌာန်းပေးထားခြင်းမဟုတ်ဘဲ မိမိဖက်မှ တီထွင်ဖန်တီးထားသည့် အချက်များကို ဒီးန်သာသနာဟု မှတ်ယူ ကျင့်ဆောင်ခြင်းသည် (ဗိဒ်အသ်) ဖြစ်၏။ ဗိဒ်အသ်သည် အလွန်ကြီးမားသော ပြစ်မှုဖြစ်၏။

ဗိဒ်အသ် တရားသစ်တီထွင်လုပ်ဆောင်သူသည် မိမိ၏ လုပ်ရပ်နှင့်ပတ်သက်ပြီး ကောင်းမှုကိစ္စဟု မှတ်ယူထားသောကြောင့် မည်သည့်အခါမျှ သောင်ဝ်ဗဟ်ပြု အမှားဝန်ခံမည်မဟုတ်ပေ။ သို့ဖြစ်ပေရာ ဗိဒ်အသ်သည် အလွန်ကြောက်စရာကောင်းသည့်ပြစ်မှုဖြစ်သည်။ ကျွန်ုပ်တို့သည် မိမိကိုယ်ကို ၎င်းပြစ်မှုဂိုနဟ်ထဲ၌ မနစ်မွန်းသွားစေရန် အစဉ်အမြဲသတိပြုရှောင်ရှားရပေမည်။

အစ္စလာမ်သာသနာသည် ကဏ္ဍရပ်တိုင်းအတွက် ပြီး ပြည့်စုံသည့်သာသနာဖြစ်သည်။ သို့ဖြစ်ပေရာ အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် ﷺ ၏ မိန့်ချေချက်ထက် ကျော်လွန်ပြီး မိမိဘက်မှ ချဲ့ထွင်ကျင့်ဆောင်ချက်တို့သည် (ဗိဒ်အသ်) ဖြစ်သည်။ ဤသို့ပင် အလ္လာဟ်အရှင်မြတ်နှင့် ရစူလ်ကိုယ်တော်မြတ် ﷺ တို့၏ တားမြစ်ချက်မရှိသည့် ကိစ္စရပ်များမှ ဆဝါးဗ်၏ နိယသ်ဖြင့် ရှောင်ကျဉ်ခြင်းသည်လည်း ဗိဒ်အသ်သာဖြစ်၏။



# ကျမ်းကိုးများ




- ဇုဗ်ဒသုလ်ဖွေကဟ်
- အစ္စလာမီးအကာအိဒ်
- အကီဒဟ်အေအိုလမာဒီယိုဗန်(ဒ)
- မစာအေလေရှိရ်ကိုဗိဒ်အသ်
- အာပ်ကေးမစာအိလ်အောင်ဝ်ရ် အွန်ကာဟာလ်